Victoria Uni Co., Ltd. မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

ပညာရေးဝန်ဆောင်မှုလုပ်ငန်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလျှောက်ထားလွှာ တင်ပြလာခြင်း | ၁၈-၉-၂၀၁၈ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေးသို့တင်ပြခြင်း | ၂၉/၂၀၁၈<br>(၂၆-၉-၂၀၁၈) | | |
| ၃ | လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာ ဝန်ကြီးဌာနများသို့ သဘောထား တောင်းခံခြင်း<br>- ပညာရေးဝန်ကြီးဌာန<br>- ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့<br>- မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ | <br><br><br>၂-၁၀-၂၀၁၈<br>၂-၁၀-၂၀၁၈<br>၂-၁၀-၂၀၁၈ | <br><br><br>၂၉-၁၀-၂၀၁၈<br>၁၇-၁၀-၂၀၁၈ | |
| ၄ | အဆိုပြုချက်အား လက်ခံကြောင်း ပြန်ကြားခြင်း | ၁၇-၁၀-၂၀၁၈ | | |
| ၅ | အဆိုပြုချက်အပေါ် ပြင်ဆင်တင်ပြ ရမည့်အချက်များ အကြောင်းကြားခြင်း | - | | |
| ၆ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁၈/၂၀၁၈<br>(၂-၁၁-၂၀၁၈) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၄၄) ရက်** | | |

**အကြောင်းအရာ။** **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Victoria Uni Company Limited မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ Victoria University College ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလျှောက်ထားလွှာ တင်ပြခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန်<br>လုပ်ငန်းအမျိုးအစား | - Victoria Uni Company Limited<br>- ဦးနိုင်သောင်းထိုက်<br>- မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- Victoria University College |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီးနှင့် မန္တလေးတိုင်းဒေသကြီး |
| ၃။ | အဆောက်အဦပိုင်ရှင်<br><br><br>အဆောက်အဦ<br>အရေအတွက် | - ဦးအောင်ဟိန်း၊ ဒေါ်ခင်မာကြူ၊ ဒေါ်စန်းမြင့်ရီ၊ ဦးအောင်ကြည် နှင့် ဦးမန်းဘဟာဒူးရ်<br><br><br>- ၄ လုံး<br>- MMB Tower ၏ တတိယထပ်၊<br>- ၂ ထပ်တိုက် အဆောက်အဦ ၁ လုံး၊<br>- ၅ ထပ်တိုက် အဆောက်အဦ ၁ လုံး နှင့်<br>- ၂ ထပ်တိုက် အဆောက် အဦ ၁ လုံး |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လို သည့်သက်တမ်း | - - |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - - |
| ၆။ | စုစုပေါင်းမတည်ငွေရင်း<br>**ထည့်ဝင်မည့်အမျိုးအစား**<br>ငွေသား<br>မြေ/အဆောက်အအုံ<br>ငှားရမ်းခ<br>ပရိဘောဂနှင့်လုပ်ငန်းသုံး<br>ပစ္စည်း<br>**စုစုပေါင်း** | - ကျပ် ၁,၄၁၀.၀၀ သန်း<br>**ကျပ် (သန်း)**<br>၄၀၀.၀၀<br><br>၆၉၀.၀၀<br><br>၃၂၀.၀၀<br>**၁,၄၁၀.၀၀** |

| | | |
|---|---|---|
| ၇။ | နှစ်စဉ်ဝန်ဆောင်မှု | <table><tr><th>စဉ်</th><th>အမျိုးအမည်</th><th>သင်တန်းကာလ</th><th>ကျောင်းသားဦးရေ</th><th>ဝန်ဆောင်ခနှုန်း (ကျပ်)</th></tr><tr><td>(က)</td><td>HND Foundation</td><td>၅ လ</td><td>၆၀</td><td>၂,၀၀၀,၀၀၀</td></tr><tr><td>(ခ)</td><td>Year-1</td><td>၁ နှစ်</td><td>၅၀</td><td>၃,၅၀၀,၀၀၀</td></tr><tr><td>(ဂ)</td><td>Year-2</td><td>၁ နှစ်</td><td>၄၀</td><td>၃,၅၀၀,၀၀၀</td></tr><tr><td>(ဃ)</td><td>Degree Final</td><td>၁ နှစ်</td><td>၃၀</td><td>၅,၀၀၀,၀၀၀</td></tr></table> |
| ၈။ | ဝန်ထမ်းခန့်ထားမှု<br>သင်ကြားရေး<br><br><br><br><br><br>စီမံခန့်ခွဲရေး | <table><tr><td></td><td>ပြည်တွင်း</td><td>ပြည်ပ</td></tr><tr><td>ဦးရေ</td><td>၃၄ ဦး</td><td>-</td></tr><tr><td>အမြင့်ဆုံးလစာ</td><td>ကျပ် ၁,၀၀၀,၀၀၀</td><td></td></tr><tr><td>အနိမ့်ဆုံးလစာ</td><td>ကျပ် ၅၀၀,၀၀၀</td><td></td></tr></table><br><table><tr><td></td><td>ပြည်တွင်း</td><td>ပြည်ပ</td></tr><tr><td>ဦးရေ</td><td>၂၁ ဦး</td><td>-</td></tr><tr><td>အမြင့်ဆုံးလစာ</td><td>ကျပ် ၂,၀၀၀,၀၀၀</td><td></td></tr><tr><td>အနိမ့်ဆုံးလစာ</td><td>ကျပ် ၄၀၀,၀၀၀</td><td></td></tr></table> |
| ၉။ | အခြားတင်ပြချက် | - ငွေကြေးအထောက်အထားအဖြစ် KBZ Bank တွင် ဒေါ်ဆွေနွယ်လတ် အမည်ဖြင့် ၁၇-၉-၂၀၁၈ ရက်စွဲတွင် ကျပ် ၄၇၁,၄၃၀,၀၈၃.၆၃ ရှိကြောင်း တင်ပြထားပါသည်။<br>- Victoria Uni Company Limited ၏ ကုမ္ပဏီမှတ်ပုံတင် လက်မှတ်၊ ဝန်ထမ်းများ၏ သက်သာချောင်ချိရေးအစီအစဉ်နှင့် Layout Plan တို့အား တင်ပြထားပါသည်။<br>- UK နိုင်ငံမှ University of Wolverhampton နှင့် Victoria University College တို့ချုပ်ဆိုထားသည့် Memorandum of Cooperation အား တင်ပြထားပါသည်။<br>- University of Wolverhampton မှ ပေးအပ်မည့် ဘွဲ့လက်မှတ် နမူနာပုံစံများအား တင်ပြထားပါသည်။<br>- သင်ကြားမည့် သင်ရိုးညွှန်းတမ်းများနှင့် ဆရာ/မများ၏ ပညာအရည် အချင်း အထောက်အထားများအား တင်ပြထားပါသည်။<br>- ကုမ္ပဏီသည် အမျိုးသားပညာရေးဥပဒေ (၂၀၁၄)၊ အမျိုးသား ပညာရေးဥပဒေ ပြင်ဆင်ချက် (၂၀၁၅) နှင့် နောင်ထွက်ပေါ်လာမည့် |

လိုက်ရန်

| | | |
|---|---|---|
| | | ပညာရေးဥပဒေများနှင့် National Assessment Policy တို့အား လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- သင်ကြားပို့ချမည့် သင်ကြားရေး ဆရာ/ဆရာမများနှင့် စီမံခန့်ခွဲရေး ဝန်ထမ်းများ လုံလောက်စွာဖြင့် သင်ကြားပို့ချလျက် ရှိကြောင်း တင်ပြထားပါသည်။<br>- နိုင်ငံတကာစံချိန်စံညွှန်း ISO 9001: 2015 Quality Management System အသိအမှတ်ပြု လက်မှတ်ရရှိပြီးကြောင်း တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။<br>- ကုမ္ပဏီသည် Victoria University College အမည်ဖြင့် ၂၀၁၂ ခုနှစ်ကပင် ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအား ဆောင်ရွက်လျက်ရှိသော လုပ်ငန်းဖြစ်ကြောင်း တွေ့ရှိရပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/ခ-၀၁၅/ ၂၀၁၈(၃၇၂)

ရက်စွဲ၊ ၂၀၁၈ ခုနှစ် အောက်တိုဘာလ ၃၁ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
## တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Victoria Uni Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ Victoria University College လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလျှောက် ထားလွှာတင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Victoria Uni Co., Ltd. မှ ရန်ကုန်တိုင်းဒေသကြီးနှင့် မန္တလေးတိုင်းဒေသကြီးတို့တွင် Victoria University College ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလျှောက်ထားလွှာတင်ပြလာပါသည်။

၂။ အဆိုပြုလျှောက်ထားလွှာနှင့်အတူ Victoria Uni Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊ မြေနှင့်အဆောက်အဦ ငှားရမ်းခြင်းစာချုပ်များ၊ မြေပိုင်ဆိုင်မှု အထောက်အထားများ၊ University of Wolverhampton နှင့် Victoria University College တို့ ချုပ်ဆိုထားသည့် Memorandum of Cooperation၊ သင်ကြားမည့် သင်ရိုးညွှန်းတမ်းများ၊ ဆရာ/ဆရာမများ၏ ပညာအရည်အချင်း အထောက်အထားများနှင့် University of Wolverhampton မှ ပေးအပ်မည့် ဘွဲ့လက်မှတ် နမူနာပုံစံများအား ပူးတွဲတင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ် ၁,၄၁၀.၀၀ သန်းဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| ထည့်ဝင်မည့်အမျိုးအစား | စုစုပေါင်း<br>ကျပ်(သန်း) |
|---|---|
| ငွေသား | ၄၀၀.၀၀ |
| မြေ/ အဆောက်အဦငှားရမ်းခ | ၆၉၀.၀၀ |
| ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း | ၃၂၀.၀၀ |
| **စုစုပေါင်း** | **၁,၄၁၀.၀၀** |

၄။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် သင်ကြားရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၃၄ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်ပဝန်ထမ်းခန့်ထားခြင်းမရှိပါ။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပါသည်။ စီမံခန့်ခွဲရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၂၀ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၄၀၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၂,၀၀၀,၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ဝန်ဆောင်မှုပေးမည့် သင်တန်းများနှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | သင်တန်းကာလ | ကျောင်းသားဦးရေ | ဝန်ဆောင်ခနှုန်း (ကျပ်) |
|---|---|---|---|---|
| (က) | HND Foundation | ၅ လ | ၆၀ | ၂,၀၀၀,၀၀၀ |
| (ခ) | Year-1 | ၁ နှစ် | ၅၀ | ၃,၅၀၀,၀၀၀ |
| (ဂ) | Year-2 | ၁ နှစ် | ၄၀ | ၃,၅၀၀,၀၀၀ |
| (ဃ) | Degree Final | ၁ နှစ် | ၃၀ | ၅,၀၀၀,၀၀၀ |

၆။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနအဖွဲ့အစည်းများသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**
အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ၂၀၁၈ခုနှစ် အောက်တိုဘာလ ၁၁ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် ၃၉/၂၀၁၈၊ ဆုံးဖြတ်ချက်အပိုဒ် ၅၉ အရ ရန်ကုန်တိုင်းဒေသကြီးတွင် Victoria University College ဆောင်ရွက်ခြင်းအား ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်ပြန်ကြားခဲ့ပါသည်။

(ခ) **ပညာရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**
အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်ပြန်ကြားခဲ့ပါသည်။

၇။ ငွေကြေးအထောက်အထားအဖြစ် KBZ Bank တွင် ဒေါ်ဆွေနွယ်လတ် အမည်ဖြင့် ၁၇-၉-၂၀၁၈ ရက်စွဲတွင် ကျပ် ၄၇၁,၄၃၀,၀၈၃.၆၃ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၈။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဂ) ကုမ္ပဏီသည် Victoria University College အမည်ဖြင့် ၂၀၁၂ ခုနှစ်ကပင် ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအား ဆောင်ရွက်လျက်ရှိသော လုပ်ငန်းဖြစ်ကြောင်း တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၉။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Victoria Uni Co., Ltd. မှ Victoria University College အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလျှောက်ထားလွှာ တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

(နောက်ဆက်တွဲ-က)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ အောက်တိုဘာလ ၁၅ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂.၁၀.၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက - ၅ (အ) / ခ - ၀၂၁ / ၂၀၁၈ (၃၃၄)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Victoria Uni Co.,Ltd (ဗစ်တိုးရီးယားယူနီကုမ္ပဏီလီမိတက်)မှ ရန်ကုန်တိုင်းဒေသကြီးတွင် Victoria University College လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၁၁.၁၀.၂၀၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၉/၂၀၁၈)၊ ဆုံးဖြတ်ချက်အပိုဒ်(၅၉)အရ ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(နော်ပန်းသဥ္ဇာမြိုး၊ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

**မိတ္တူကို**
တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
Victoria Uni Co.,Ltd (ဗစ်တိုးရီးယားယူနီကုမ္ပဏီလီမိတက်) - ပညာရေးဝန်ကြီးဌာန၏လုပ်ထုံးလုပ်နည်းများအတိုင်း ဆက်လက်ဆောင်ရွက်ရန်။
လက်ခံစာတွဲ
မျှောစာတွဲ

D/2018/Cabinet 38(4)

(နောက်ဆက်တွဲ-ခ)



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ပညာရေးဝန်ကြီးဌာန
## ဝန်ကြီးရုံး

စာအမှတ်၊ စီမံကိန်း(သဘောထား) /၂၀၁၈(၇၇၀၅၇)

ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ အောက်တိုဘာလ(၂၉ )ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည်ညွှန်းချက် ။
(၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄-၈-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၅ (အ)/ အ - ၀၁၅/ ၂၀၁၈ (၂၇၇)
(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉-၉-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၅ (အ)/ ခ - ၀၂၀/ ၂၀၁၈ (၃၁၄)
(၃) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉-၉-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၅ (အ)/ ခ - ၀၁၈/ ၂၀၁၈ (၃၁၆)
(၄) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀-၉-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၅ (အ)/ ခ - ၀၁၉/ ၂၀၁၈ (၃၁၉)
(၅) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀-၉-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၅ (အ)/ ခ - ၀၁၇/ ၂၀၁၈ (၃၂၀)
(၆) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂-၁၀-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၅ (အ)/ ခ - ၀၂၀/ ၂၀၁၈ (၃၃၃)
(၇) အမျိုးသားပညာရေးမူဝါဒကော်မရှင်၏ ၁၇-၁၀-၂၀၁၈ ရက်စွဲပါစာအမှတ်၊ ပမက/ ပုဂ္ဂလိကကျောင်း (သဘောထား)/ ၂၀၁၈ (၀၄၃၈)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Science and Tech International Myanmar University Co., Ltd.၊ Eternal Technical Supporting Co., Ltd. (ထာဝရနည်းပညာထောက်ပံ့ရေး ကုမ္ပဏီလီမိတက်)၊ Myanmar Imperial Investment Capital Co.,Ltd.၊ မြင့်မြတ်မြန်မာကုမ္ပဏီလီမိတက်၊ Victoria Uni Co., Ltd. (ဗစ်တိုးရီးယား ယူနီကုမ္ပဏီလီမိတက်)တို့မှ ရန်ကုန်တိုင်းဒေသကြီးနှင့် မန္တလေးတိုင်းဒေသကြီးတို့တွင် ပညာရေးဝန်ဆောင်မှုဆိုင်ရာရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြလာမှုအပေါ် ရည်ညွှန်း(၁)၊ (၂)၊ (၃)၊ (၄)၊ (၅)၊ (၆) ပါစာများဖြင့် ပညာရေးဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံလာပါသည်။

၂။ အဆိုပါ ရည်ညွှန်းစာများနှင့်စပ်လျဉ်း၍ ပညာရေးဝန်ကြီးဌာနမှ အမျိုးသားပညာရေးမူဝါဒကော်မရှင်သို့ မူဝါဒသဘောထားမှတ်ချက်များ တောင်းခံခဲ့ရာတွင် အမျိုးသားပညာရေးမူဝါဒကော်မရှင်မှ ရည်ညွှန်းစာ(၇)ဖြင့် အောက်ဖော်ပြပါအတိုင်း သဘောထားမှတ်ချက်များပေးပို့လာပါသည်-

(က) အမျိုးသားပညာရေးဥပဒေ ၂၀၁၄ ခုနှစ်နှင့် ယင်းကို ပြင်ဆင်သည့်ဥပဒေ ၂၀၁၅ ခုနှစ် ပုဒ်မ၆(ဆ)အရ အမျိုးသားပညာရေးမူဝါဒကော်မရှင်သည် ပြည်တွင်းပြည်ပကျောင်းများဖွင့်လှစ်ခြင်း၊ ဖွင့်လှစ်ခွင့်ရပ်ဆိုင်းခြင်းနှင့် ပိတ်သိမ်းခြင်းဆိုင်ရာ မူဝါဒချမှတ်နိုင်ပါသဖြင့် အမျိုးသားပညာရေးမူဝါဒ ကော်မရှင်အနေဖြင့် အဆင့်မြင့်ပညာပုဂ္ဂလိကကျောင်းများနှင့် အခြေခံပညာကျောင်းများအတွက် မူဝါဒချမှတ်ပေးရန် လိုအပ်ပါသည်။ ယင်းသို့ မူဝါဒချမှတ်ရာတွင် အမျိုးသားသင်ရိုးညွှန်းတမ်းကော်မတီ၊ အမျိုးသားပညာရေးအဆင့်အတန်းနှင့် အရည်အသွေးအာမခံမှု အကဲဖြတ်ရေးကော်မတီ၊ ပုဒ်မ ၂၇ အရ ဖွဲ့စည်းသော ပါမောက္ခချုပ်များကော်မတီ၊ အမျိုးသားပညာရေးဥပဒေပုဒ်မ ၆၀ အရ ပုဂ္ဂလိကကျောင်းများအတွက် ကျွမ်းကျင်ပညာရှင်များပါဝင်သည့် ပညာရေးဝန်ကြီးဌာနကဖွဲ့စည်းထားသော ကြီးကြပ်ရေးအဖွဲ့နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်တို့ ဆွေးနွေးပြီး မူဝါဒများ ချမှတ်သင့်ပါသည်။

(ခ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၆၁ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် အဆိုပြုချက်ကိုစိစစ်ရာတွင် လိုအပ်ပါက အစိုးရဌာန၊ အစိုးရအဖွဲ့အစည်းများနှင့် ဆွေးနွေးတိုင်ပင်နိုင်သည်ဟု ဖော်ပြထားသဖြင့် ပုဂ္ဂလိကကျောင်း ဖွင့်လှစ်ခွင့် အဆိုပြုချက်များကို စိစစ်ရာတွင် ပညာရေးဝန်ကြီးဌာနကို ဆွေးနွေးတိုင်ပင်သဘောထားမှတ်ချက်တောင်းခြင်း ဖြစ်ပါသည်။ သို့ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၄၉ အရ အဆိုပြုချက်အား လက်ခံသည့်နေ့ရက်မှ ရက်ပေါင်း(၆၀)အတွင်း ခွင့်ပြုမိန့်ကို ထုတ်ပေးရမည်ဖြစ်၍ ပညာရေးဝန်ကြီးဌာနသို့ စာရောက်ရှိလာချိန်တွင် (၈)ရက်သာ ကျန်ရှိပြီး အချို့သော ပုဂ္ဂလိကကျောင်းကိစ္စများမှာ target date လွန်စွာနီးကပ်နေသည်ကိုတွေ့ရှိရပါသည်။ (ဥပမာ-မြင့်မြတ်မြန်မာကုမ္ပဏီလီမိတက်၏ ၂၉-၈-၂၀၁၈ ရက်စွဲပါစာရမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ပညာရေးဝန်ကြီးဌာနသို့ပေးပို့သော စာအမှတ်-မရက- ၅(အ) ခ-၀၁၇/ ၂၀၁၈ (၃၂၁))

(ဂ) ထိုပြင်ခွင့်ပြုမိန့်ကို ရင်းနှီးမြှုပ်နှံမှုနည်းဥပဒေအရ ထုတ်ပေးရမည်ဟု (Shall Permit) ဆိုသော သဘောဖြစ်နေ၍ ခွင့်မပြုမနေရ ခွင့်ပြုမည့်သဘောဖြစ်ပါသည်။ ယင်းသို့ ပုဂ္ဂလိက ပညာရေးဝန်ဆောင်မှုလုပ်ငန်းကို အားပေးရန်အတွက် အမျိုးသားပညာရေးဥပဒေ အခန်း(၃) အမျိုးသားပညာရေးအခြေခံမူများအနက် တစ်ခုမှာ ပုဒ်မ၄(င)တွင် ကိုယ်ပိုင် သို့မဟုတ် ပုဂ္ဂလိကကျောင်းများကို သက်ဆိုင်ရာဥပဒေနှင့်အညီ တည်ထောင်ခွင့်ပြုခြင်း နှင့် ပညာရေးလုပ်ငန်းများ၌ ပုဂ္ဂလိကကဏ္ဍ၏ ပူးပေါင်းပါဝင်ဆောင်ရွက်မှုကို အားပေးမြှင့်တင်ရေးဟူ၍ ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။

(ဃ) အမျိုးသားပညာရေးဥပဒေပုဒ်မ ၄(ဏ)တွင် **"ပညာရေးအဆင့်တိုင်းနှင့် ပညာရပ်နယ်ပယ်အသီးသီးတွင် ပညာရေးအဆင့်အတန်းသတ်မှတ်ပြီး အရည်အသွေးအာမခံမှုရှိသောစနစ်ကို အကောင်အထည်ဖော်ဆောင်ရွက်ရေး"**ဟူ၍ အမျိုးသားပညာရေးဆိုင်ရာ အခြေခံမူတစ်ရပ်အနေဖြင့် ချမှတ်ထားရာ ပုဂ္ဂလိကကျောင်းများ၏ အရည်အသွေးအာမခံမှုရှိသောစနစ်ကို အကောင်အထည်ဖော်ဆောင်ရွက်ပေးရေးသည်လည်း ဥပဒေအရ လိုအပ်ချက်တစ်ရပ်ပင်ဖြစ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ပုဂ္ဂလိကကျောင်းများ၏ အဆိုပြုချက်ကို service provider အဖြစ် ဆောင်ရွက်ရန်အတွက် လက်ခံခွင့်ပြုပြီးနောက် ပညာရေးဝန်ဆောင်မှုကို ဆက်လက်ဆောင်ရွက်ရာ၌ ပုဂ္ဂလိကကျောင်းဥပဒေ မပေါ်ထွက်လာသေးမီတွင် ပညာရေးဝန်ကြီးဌာနမှ ဖွဲ့စည်းပေးသော ပုဂ္ဂလိကကျောင်းများအတွက် ကြီးကြပ်ရေးအဖွဲ့၊ အမျိုးသားပညာရေးမူဝါဒကော်မရှင် နှင့် ယင်းမှဖွဲ့စည်းထားသော ကော်မတီများအနေဖြင့် စည်းမျဉ်းများသတ်မှတ်ပေးခြင်း၊ မူဝါဒချမှတ်ပေးခြင်းတို့ဖြင့် ပုဂ္ဂလိကကျောင်းပညာရေးကို အရည်အသွေးအာမခံမှုရှိသောစနစ်အဖြစ် အကောင်အထည်ဖော်ဆောင်ရွက်နိုင်မည်ဖြစ်ပါသည်။

(င) အဖွဲ့အစည်းများက ပေးအပ်သည့်သင်တန်းဆင်းအောင်လက်မှတ် (Certificate) နှင့် ဘွဲ့လက်မှတ်များကို အမျိုးသားပညာရေးမူဝါဒကော်မရှင်အနေဖြင့် အသိအမှတ်ပြုခြင်းမဟုတ်ပါ။

၃။ သို့ဖြစ်ပါ၍ အောက်ဖော်ပြပါအကြံပြုချက်များနှင့်အညီ ဆောင်ရွက်ပါက ပညာရေးဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်-

(က) ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေးအတွက် ပညာရေးဝန်ဆောင်မှုလုပ်ငန်းများနှင့်ပတ်သက်၍ ရင်းနှီးမြှုပ်နှံမှုဆောင်ရွက်ရာတွင် သတ်မှတ်ထားသည့်(၁၇)ချက်နှင့် ညီညွတ်မှုရှိရပါမည်။

(ခ) ချိတ်ဆက်ဆောင်ရွက်နေသည့် တက္ကသိုလ်(၂)ခု၏ သဘောတူညီထားမှု အထောက်အထားကို ဖော်ပြရန် လိုအပ်ပါသည်။

(ဂ) အခကြေးငွေ Tution Fee နှင့်ပတ်သက်သည့် မူဝါဒကို တိတိကျကျ သတ်မှတ်ဖော်ပြသင့်ပါသည်။

(ဃ) ပညာရေးဝန်ဆောင်မှုလုပ်ငန်း လုပ်ဆောင်သည့် ကုမ္ပဏီ၏ ငွေကြေးအင်အား၊ အခွန်ပေးဆောင်မှု၊ သက်တမ်းခိုင်မာမှုများ ဖော်ပြရပါမည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ဒေါက်တာစည်သူကျော်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

- စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန
- အမျိုးသားပညာရေးမူဝါဒကော်မရှင်
- ပြည်ထောင်စုဝန်ကြီးရုံးခန်း၊ ပညာရေးဝန်ကြီးဌာန
- ဒုတိယဝန်ကြီးရုံးခန်း၊ ပညာရေးဝန်ကြီးဌာန
- ဒုတိယအမြဲတမ်းအတွင်းဝန်များရုံးခန်း၊ ပညာရေးဝန်ကြီးဌာန
- အဆင့်မြင့်ပညာဦးစီးဌာန၊ ပညာရေးဝန်ကြီးဌာန
- မူဝါဒနှင့် ဥပဒေလုပ်ထုံးလုပ်နည်းစိစစ်ရေးနှင့်လုပ်ငန်းစစ်ဆေးရေးဌာနခွဲ၊ ဝန်ကြီးရုံး၊ ပညာရေးဝန်ကြီးဌာန
- Science and Tech International Myanmar University Co., Ltd.
- Eternal Technical Supporting Co., Ltd. (ထာဝရနည်းပညာထောက်ပံ့ရေးကုမ္ပဏီလီမိတက်)၊
- Myanmar Imperial Investment Capital Co.,Ltd.
- မြင့်မြတ်မြန်မာကုမ္ပဏီလီမိတက်
- Victoria Uni Co., Ltd. (ဗစ်တိုးရီးယားယူနီကုမ္ပဏီလီမိတက်)
- ရုံးလက်ခံ/ မျှောစာတွဲ